



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၄၈/၉၆ ၁၉၉၆ ခုနှစ်ဧပြီ လ ၂၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး ငွေး နိုင်

(ခ) အဘအမည် ဦး စိန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/နခန(နိုင်) ၀၀၀၁၃၀

(ဃ) နေရပ်လိပ်စာ ၁၇၂၊ အနော်ရထာလမ်း ကျောက်တံတား မြို့နယ်၊ ရန်ကုန်

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ဂရင်းဆာကယ်လ်ကုမ္ပဏီလီမိတက် ( Green Circle Company Limited )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ( Ve Ve ) အမှတ်တံဆိပ် အချိုရည် (ဘီလပ်ရည်) များ ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) (၁) မြေကွက်အမှတ် ၁၄၂၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ စက်မှုဇုန်ဒေသ၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။
(၂) မြေကွက်အမှတ်ဘီ-၃-၄၊ မြေတိုင်းရပ်ကွက် (စ)၊ ပြည်ကြီးကံ့ခွန်မြို့နယ်၊ မန္တလေးတိုင်း။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၄၁.၂သန်း (ကျပ် လေးဆယ့်တစ်သန်း နှင့်နှစ်သိန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၄၀ / ၉၆
ရန်ကုန်မြို့၊ ၁၃၅၈ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၂ ရက်၊
( ၁၉၉၆ ခုနှစ်၊ နိုဝင်ဘာလ ၂၂ ရက် )။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဂရင်းဆာကယ်လ်ကုမ္ပဏီလီမိတက် (Green Circle Co.,Ltd) မှ မြေကွက်အမှတ် ( ၁၄၂ )၊ မြေတိုင်းရပ်ကွက်အမှတ် ( ၄၂ ) စက်မှုဒေသ၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့နှင့် မြေကွက်အမှတ်ဘီ-၃-၄၊ မြေတိုင်းရပ်ကွက်အမှတ် ( ၈ )၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်း တို့တွင် ( Ve Ve ) အမှတ်တံဆိပ်ဖြင့်အချိုရည် (ဘိလပ်ရည်) ( Soft Drink ) ထုတ်လုပ်သော စက်ရုံကိုတည်ဆောက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ( ၂၃-၁၀-၉၆ ) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၆ / ၉၆ ) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့အစည်းဝေးသို့ ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ ( ၆-၁၁-၉၆ ) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ ( ၃၇ / ၉၆ ) ကြိမ်မြောက် အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ အခန်း (၅)၊ ပုဒ်မ-၁၀ အရ အပ်နှင်းထားသောလုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် ဂရင်းဆာကယ်လ်ကုမ္ပဏီလီမိတက်အား အချိုရည် (ဘိလပ်ရည်) ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၄၇ / ၉၆ ကိုထုတ်ပေးလိုက်သည်။

၂။ ဂရင်းဆာကယ်လ်ကုမ္ပဏီလီမိတက်အနေဖြင့် ဤခွင့်ပြုမိန့်အရ အချိုရည် (ဘိလပ်ရည်) ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း ( ၇ )၊ ပုဒ်မ-၁၂ အရ၊ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင်တစ်ဆက်တည်း ( ၃ ) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့်

ဥပဒေပုဒ်မ-၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ-၁၃(က)အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်ကိုသတ်မှတ်ပေးနိုင်ရန်အတွက် ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကိုဖော်ပြလျက် လုပ်ငန်းအကောင်အထည်ဖော်မှုအခြေအနေ ပေါ်မူတည်၍ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ-၁၃(ခ)အရ လုပ်ငန်းမှနိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့်ကိုခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက်လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက်ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ-၁၃(ဂ)အရ ကုန်ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိပြည်တွင်း၊ ပြည်ပဝင်ငွေတိုးတက်မှုရှိပါက ဝင်ငွေခွန်သက်သာခွင့်ပြုရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ-၁၃(စ)အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ်သက်သာခွင့်ရရှိရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါ အမှန်တကယ်အကောင်အထည်ဖော်မှုအခြေအနေကိုဖော်ပြလျက် ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ-၁၃(ဆ)အရ လုပ်ငန်းသုံးမတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ယင်းတန်ဖိုးလျော့နှုန်းထားများကို ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ-၁၃(ဇ)အရ ကနဦးရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌မရရှိနိုင်သည့် အမှန်တကယ်လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ နှစ်မျိုးလုံးကိုကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ-၁၃(ဈ)အရ ကနဦးရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက်ကုန်ထုတ်လုပ်ရန်တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၁၃(ဇ) အရပြည်ပမှတင်သွင်းသည့်စက်ပစ္စည်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်းလိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း ( Source of Payments for Import ) ဥပမာ-ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ ( Loan and Credits )ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် ( Buy-back System )စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာအသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် - ( Inspection Agency )၏စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်း အထောက်အထား ( Inspection Certificate )ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစားစာရင်း ( Invoice and Packing List )များကိုနိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေး အဖွဲ့ငယ်သို့တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက်၊ ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဒေသ၊ မြေတိုင်း ရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် ၁၄၂ကိုပိုင်ဆိုင်သူ ဒေါ်ခင်ရီ၊ မြေကွက်အမှတ်ဘီ-၃-၄၊ မြေတိုင်း ရပ်ကွက်(၈)၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်း ကိုပိုင်ဆိုင်သူ ဦးဒွေးနိုင်တို့နှင့် အငှားချထားခြင်းခံရသူ ဂရင်းဆာကယ်လ်ကုမ္ပဏီလီမိတက်( Green Circle Co., Ltd. )တို့ချုပ်ဆိုသည့်မြေငှားသဘောတူစာချုပ်လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်စီကို ကော်မရှင်သို့ တင်ပြရမည်။

၅။ ထိုသို့ မြေငှားရမ်းခြင်းနှင့်ပတ်သက်၍အငှားချထားသူနှင့်အငှားချထားခြင်းခံရသူနှစ်ဦးနှစ်ဖက်စလုံးတို့သည် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကိုတိကျစွာလိုက်နာဆောင်ရွက်ရမည်။

၆။ ဂရင်းဆာကယ်လ်ကုမ္ပဏီလီမိတက်(Green Circle Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ အချိုရည်(ဘီလစ်ရည်)ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုစသည်များ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့်ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို စနစ်တကျထား ရှိဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက်ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင်အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားမှု ဦးစီးဌာနနှင့်ညှိနှိုင်း ဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၉။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့်နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ-

(ဗိုလ်မှူးချုပ်မောင်မောင်)
အတွင်းရေးမှူး
[ ဝန်ကြီး ၊ ဒုတိယဝန်ကြီးချုပ်ရုံး ]

စာအမှတ်၊ ၇က-၁/မ-၀၇၂/၉၆(၁၂၆၁)။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ နိုဝင်ဘာလ ၂၂ ရက်။

ဖြန့်ဝေခြင်း -

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ဒုတိယဝန်ကြီးချုပ်ရုံး။
၅။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။
၆။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။
၇။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန။
၈။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၉။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။
၁၀။ အလုပ်သမားဝန်ကြီးဌာန။

၁၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။

၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်၊ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်းနှင့်စစ်ဆေးရေးဦးစီးဌာန)။

၁၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။

၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့စားသောက်ကုန်လုပ်ငန်း။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာန။

၂၀။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။

၂၂။ မန်နေဂျင်းဒါရိုက်တာ၊ ဂရင်းအာကယ်လ်ကုမ္ပဏီလီမိတက်။

အမိန့်အရ -

(မောင်မောင်ရီ)
တွဲဖက်အတွင်းရေးမှူး။



*လ၁၁/၁၁/၉၆။